ပုံစံ (မနသ-၂)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ- ၁၂၀၀/၂၀၁၆ ။ ၂၀၁၆ ခုနှစ် ဇူလိုင်လ ၇၈ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်-

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဒေါ်သန္တာနေဝင်း

(ခ) **အဘ အမည်** ဦးနေဝင်း

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၁၂/ဗဟန (နိုင်) ၀၈၄၄၄၈

(ဃ) **နေရပ်လိပ်စာ** အမှတ်(၇)၊ ကုက္ကိုင်းရိပ်သာလမ်း၊ ရွှေတောင်ကြား(၂)ရပ်ကွက်၊ ဗဟန်းမြို့နယ်၊ရန်ကုန်မြို့

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း** Ngapali Bay Villas & Spa Company Limited ( ငပလီ ဘေးဗီလာ အန်ဒ် စပါး ကုမ္ပဏီ လီမိတက်)

(စ) **ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့် လုပ်ငန်းအမျိုးအစား** Ngapali Bay Villas & Spa ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** ကာကွယ်ရေးဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံးပိုင်၊ ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ ငပလီမြို့နယ်၊ မြပြင်ရပ်ကွက်၊ မြေကွက်အမှတ်(၄၀)၊ ကွင်းအမှတ် ၂၀၇-မြပြင်ကွင်း၊ ဦးပိုင်အမှတ် ၄-က၊၄-ခ၊ ၅ ရှိ မြေဧရိယာ(၄.၃၄)ဧက

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ၇၅၉၀.၈၉ သန်း ( စုစုပေါင်း ကျပ် ခုနှစ်ထောင့်ငါးရာ ကိုးဆယ် သန်း နှင့် ရှစ် သိန်း ကိုးသောင်း ခန့် )

(ဈ) **တည်ဆောက်မှုကာလ** ၂ နှစ်

(ည) **ရင်းနှီးမြှုပ်နှံမှုခွင့်ပြုသည့်သက်တမ်း** ၅၀ နှစ်

18.7.16

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

**ကန့်သတ်**

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၈၇ /၂၀၁၆ (မနသ)

၂၀၁၆ ခုနှစ် ဇူလိုင်လ ၁၈ ရက်

၁။ မြန်မာကုမ္ပဏီဖြစ်သော Ngapali Bay Villas & Spa Company Limited (ငပလီဘေး ဗီလာ အန်ဒ် စပါး ကုမ္ပဏီ လီမိတက်)မှ ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)၊ စစ်ထောက်ချုပ်ရုံးမှ ပိုင်ဆိုင်သော ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ ငပလီမြို့နယ်၊ မြပြင်ရပ်ကွက်၊ မြေကွက် အမှတ်(၄၀)၊ ကွင်းအမှတ် ၂၀၇-မြပြင်ကွင်း၊ ဦးပိုင်အမှတ် ၄-က၊ ၄-ခ၊ ၅ ရှိ မြေဧရိယာ (၄.၃၄)ဧကတွင် BOT စနစ်ဖြင့် မြေငှားရမ်း၍ Ngapali Bay Villas & Spa ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်သန္တာနေဝင်း မှ ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)၊ စစ်ထောက်ချုပ်ရုံးမှတစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းအား ၂၀၁၆ ခုနှစ်၊ ဇူလိုင်လ ၈ ရက်နေ့တွင် ကျင်းပသည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏(၁၃/၂၀၁၆)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ "ခွင့်ပြုမိန့်ထုတ်ပေးရန်" ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၇)၊ ပုဒ်မ ၁၂ (ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့် များကို ကျင့်သုံးလျက် Ngapali Bay Villas & Spa Company Limited (ငပလီဘေး ဗီလာ အန်ဒ် စပါး ကုမ္ပဏီ လီမိတက်)အား Ngapali Bay Villas & Spa ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ-၁၂၀၀/၂၀၁၆ ကို ထုတ်ပေးလိုက် သည်။

၂။ Ngapali Bay Villas & Spa အနေဖြင့် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက် ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၁၁)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ဝန်ဆောင်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေ ခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ်ပြန်လည် ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤ ကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

**ကန့်သတ်**

(ဂ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ်ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့ အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(ဇ)အရ ဝင်ငွေခွန် စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း စက်ကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံး အခြား မတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်က သတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုး လျော့တွက်နှုန်းများ အတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုး လျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့် အား ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ Ngapali Bay Villas & Spa Company Limited (ငပလီဘေး ဗီလာ အန်ဒ် စပါး ကုမ္ပဏီလီမိတက်)သည် ဤခွင့်ပြုမိန့်အရဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် **ဝန်ဆောင်မှု ရည်မှန်းချက်များ** ကို **အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ်ထားရှိ ဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၄။ Ngapali Bay Villas & Spa Company Limited (ငပလီဘေး ဗီလာ အန်ဒ် စပါး ကုမ္ပဏီ လီမိတက်)သည် ဤ အဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၅။ ကာကွယ်ရေး ဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံးနှင့် Ngapali Bay Villas & Spa Company Limited (ငပလီဘေး ဗီလာ အန်ဒ် စပါး ကုမ္ပဏီ လီမိတက်)တို့သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ အတည်ပြုပြီးဖြစ်သော BOT စနစ်ဖြင့် ငှားရမ်းခြင်း သဘောတူစာချုပ်ပါ စည်းမျဉ်းစည်းကမ်းများအတိုင်း လိုက်နာဆောင်ရွက်ရမည်။

၆။ အဆိုပြုလုပ်ငန်းဆောင်ရွက်ရန်အတွက် မြေငှားရမ်းခြင်း သက်တမ်းကာလမှာ ကာကွယ်ရေး ဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံး နှင့် Ngapali Bay Villas & Spa Company Limited (ငပလီဘေး ဗီလာ အန်ဒ် စပါး ကုမ္ပဏီလီမိတက်)တို့ ချုပ်ဆိုသော BOT စနစ်ဖြင့် ငှားရမ်းခြင်း သဘောတူ စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှ စတင်၍ ကနဦး နှစ် (၅၀)နှင့် သက်တမ်းတိုးမြှင့်မည့် ကာလမှာ (၁၀)နှစ် သက်တမ်း(၂)ကြိမ် ဖြစ်သည်။ ထိုသို့ စာချုပ်သက်တမ်းကာလ တိုးမြှင့်ခြင်းအား ကော်မရှင် သို့ တင်ပြ၍ ခွင့်ပြုချက် ရရှိပြီးမှသာ အတည်ဖြစ်သည်။

၇။ Ngapali Bay Villas & Spa Company Limited (ငပလီဘေး ဗီလာ အန်ဒ် စပါး ကုမ္ပဏီ လီမိတက်) သည် ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)၊ စစ်ထောက်ချုပ်ရုံးသို့ မြေအသုံးချမှု ပရီမီယံကြေးအဖြစ် မြေ တစ်ဧကလျှင် ကျပ် ၂၅၀၀ သိန်း (ကျပ် သိန်း နှစ်ထောင့်ငါးရာ တိတိ) နှုန်းဖြင့် မြေဧရိယာ (၄.၃၄) ဧက အတွက် စုစုပေါင်း ကျပ် ၁၀၈၅၀ သိန်း (ကျပ် သိန်း တစ်သောင်း

ရှစ်ရာ့ ငါးဆယ် တိတိ)ကို BOT စနစ်ဖြင့် ငှားရမ်းခြင်း သဘောတူ စာချုပ် လက်မှတ်ရေးထိုးသည့် နေ့မှစ၍ အောက်ပါအတိုင်း (၄)ကြိမ်ခွဲ၍ ပေးသွင်းရမည်-

(က) ပထမအကြိမ် ၂၅ % ကို (၁)လအတွင်း

(ခ) ဒုတိယအကြိမ် ၂၅ % ကို (၈) လအတွင်း

(ဂ) တတိယအကြိမ် ၂၅ % ကို (၁၆) လအတွင်း

(ဃ) စတုတ္ထအကြိမ် ၂၅ % ကို (၂၄) လအတွင်း

၈။ နှစ်စဉ်မြေငှားရမ်းခအဖြစ် ကျပ် ၂၁.၇၀ သန်း နှင့် အမေရိကန်ဒေါ်လာ ၁၀၈၅၀ ကို ပေးသွင်းရမည်။ မြေငှားရမ်းခများကို (၁)နှစ် တစ်ကြိမ်ပေးသွင်းရမည်။

၉။ မြေငှားရမ်းခကို (၅)နှစ်လျှင် တစ်ကြိမ် နှစ်ဖက်ပြန်လည် ညှိနှိုင်းသုံးသပ်ရန်နှင့် ငှားရမ်းခ ထပ်မံ တိုးမြှင့်မည်ဆိုပါက ယင်းတိုးမြှင့်မည့်နှုန်းသည် မူလငှားရမ်းခ၏ ၁၅ % ထက် မကျော်လွန်စေရ။

၁၀။ Ngapali Bay Villas & Spa Company Limited (ငပလီဘေး ဗီလာ အန်ဒ် စပါး ကုမ္ပဏီ လီမိတက်)သည် ဟိုတယ်စီမံကိန်း ဆောင်ရွက်ရန် BOT စနစ်ဖြင့် ငှားရမ်းခြင်း သဘောတူ စာချုပ်ကို လက်မှတ်ရေးထိုးသည့် နေ့မှစတင်၍ ဟိုတယ် တည်ဆောက်ရေးကာလ ၂ နှစ် အတွင်း ပြီးစီးအောင် တည်ဆောက်ဖွင့်လှစ်ရမည်။

၁၁။ Ngapali Bay Villas & Spa Company Limited (ငပလီဘေး ဗီလာ အန်ဒ် စပါး ကုမ္ပဏီ လီမိတက်)သည် တည်ဆောက်ရေးကာလ ၂ နှစ် အတွင်း ရရှိသော ဝင်ငွေအပေါ် ထိုက်သင့်သော ဝင်ငွေခွန်ကို ဝင်ငွေခွန် ဥပဒေနှင့် အညီ ပေးဆောင်ရမည်။

၁၂။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် ကာကွယ်ရေးဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံး နှင့် Ngapali Bay Villas & Spa Company Limited (ငပလီဘေး ဗီလာ အန်ဒ် စပါး ကုမ္ပဏီ လီမိတက်)တို့ ချုပ်ဆိုမည့် BOT စနစ်ဖြင့် ငှားရမ်းခြင်း သဘောတူ စာချုပ်ကို လက်မှတ် ရေးထိုး၍ ထိုက်သင့်သော တံဆိပ်ခေါင်းခွန်များ ပေးဆောင်ပြီးသည့်အခါ ယင်း သဘောတူ စာချုပ် မိတ္တူ(၅) စောင်စီကို ဤ ကော်မရှင်သို့ **မပျက်မကွက်** ပေးပို့တင်ပြရမည်။

၁၃။ Ngapali Bay Villas & Spa Company Limited (ငပလီဘေး ဗီလာ အန်ဒ် စပါး ကုမ္ပဏီ လီမိတက်)သည် ဟိုတယ်တည်ဆောက်ရေး၊ အခန်းများဖွဲ့စည်းရေးနှင့် လိုအပ်သော Facilities များ ထည့်သွင်းရေးအတွက် မြန်မာနိုင်ငံ ဟိုတယ်နှင့် ခရီးသွားလာရေး ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ၊ ဟိုတယ်နှင့် တည်းခိုရိပ်သာ လုပ်ငန်းလိုင်စင်ဆိုင်ရာ အမိန့်များပါဝင်သော ဟိုတယ်တည်ဆောက်ရေး ဆိုင်ရာ အခြေခံ လိုအပ်ချက်နှင့် စံနှုန်းများ (Basic Requirement and Criteria) ထက် မနိမ့်ကျစေရေးအတွက် အဆိုပါ ဥပဒေအမိန့်များကို ကြိုတင်ရယူလေ့လာ၍ ဆောင်ရွက်သွားရမည်။

၁၄။ Ngapali Bay Villas & Spa Company Limited (ငပလီဘေး ဗီလာ အန်ဒ် စပါး ကုမ္ပဏီ လီမိတက်)သည် ဟိုတယ် တည်ဆောက်ရေး နှင့်စပ်လျဉ်း၍ ဟိုတယ်နှင့် ခရီးသွားလာရေး ဝန်ကြီးဌာနမှထုတ်ပြန်ထားသော ကမ်းခြေခရီးစဉ်ဒေသ ရေရှည်တည်တံ့ခိုင်မြဲရေးအတွက် လိုက်နာ ဆောင်ရွက်ရန် အချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် သတ်မှတ် အမြင့်ပေထက် ပို၍ ထပ်ခိုးတင်ခြင်း၊ အမိုးထပ်တင်ခြင်းများ၊ တည်ဆောက်ရေးလုပ်ငန်းများတွင် အသုံးပြုရန် ကမ်းခြေ သောင်များ၌ သဲများတူးခြင်းများ မပြုလုပ်ရန် သတ်မှတ်ချက်များအား လိုက်နာဆောင်ရွက်ရမည်။

၁၅။ Ngapali Bay Villas & Spa Company Limited (ငပလီဘေး ဗီလာ အန်ဒ် စပါး ကုမ္ပဏီ လီမိတက်)သည် BOT စနစ်ဖြင့် ငှားရမ်းခြင်း သဘောတူ စာချုပ်သက်တမ်း ကာလ အတွင်း ထိုလုပ်ငန်းအတွက် အခြား ပုဂ္ဂိုလ်တစ်ဦးဦးအား တစ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစု ရှယ်ယာ လွှဲပြောင်းခြင်း နှင့် လုပ်ငန်း လွှဲပြောင်းခြင်းတို့ကို ကော်မရှင်၏ ခွင့်ပြုချက်ဖြင့် ဆောင်ရွက် ရမည်။

၁၆။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၁၇။ Ngapali Bay Villas & Spa Company Limited (ငပလီဘေး ဗီလာ အန်ဒ် စပါး ကုမ္ပဏီ လီမိတက်)သည် လုပ်ငန်း ဆောင်ရွက်ရာတွင် မြို့ပြစီမံကိန်းနှင့် ကိုက်ညီစေရေးအတွက် လည်းကောင်း၊ သက်ဆိုင်ရာ ဥပဒေများပြဋ္ဌာန်း ပေါ်ပေါက်လာသည့်အခါ အဆိုပါ ဥပဒေပါ ပြဋ္ဌာန်း ချက်များ၊ စည်းမျဉ်း၊ စည်းကမ်းများ နှင့် ကိုက်ညီစေရန်လည်းကောင်း လိုက်နာဆောင်ရွက်ရမည်။

၁၈။ Ngapali Bay Villas & Spa Company Limited (ငပလီဘေး ဗီလာ အန်ဒ် စပါး ကုမ္ပဏီ လီမိတက်)သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေးတို့အတွက် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ်(Environmental Management Plan-EMP)ကို ပြုလုပ်ဆောင်ရွက်ပြီး ယင်း ဆောင်ရွက်ပြီးစီးမှုအခြေအနေကိုကော်မရှင်နှင့် သယံဇာတနှင့်သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာနတို့သို့ ပေးပို့အစီရင်ခံရမည်။

၁၉။ Ngapali Bay Villas & Spa Company Limited (ငပလီဘေး ဗီလာ အန်ဒ် စပါး ကုမ္ပဏီ လီမိတက်)သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြား ရေးဦးစီးဌာနနှင့်ညှိနှိုင်းဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့်အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထားဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေးနှင့် စာရင်းဇယားများ စနစ်တကျရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

၂၀။ Ngapali Bay Villas & Spa Company Limited (ငပလီဘေး ဗီလာ အန်ဒ် စပါး ကုမ္ပဏီ လီမိတက်)သည် ဤ ခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ မီးဘေး အန္တရာယ် မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၂၁။ Ngapali Bay Villas & Spa Company Limited (ငပလီဘေး ဗီလာ အန်ဒ် စပါး ကုမ္ပဏီ လီမိတက်) သည် ဤ ခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေး အန္တရာယ်စသည်များ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျ ထားရှိဆောင်ရွက်ရမည်။ ထို့ပြင် နိုင်ငံတော်မှ ပြဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဆိုင်ရာနည်း ဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၂၂။ Ngapali Bay Villas & Spa Company Limited (ငပလီဘေး ဗီလာ အန်ဒ် စပါး ကုမ္ပဏီလီမိတက်)သည် ကနဦး လုပ်ငန်းဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး (သုံး)လ အတွင်း ဤကော်မရှင် သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်းအကောင် အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ် စတင်ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင် ပြီး (တစ်)လ အတွင်း ဤကော်မရှင် သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၂၃။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း/ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်)ပြောင်းလဲမှု ရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၂၄။ Ngapali Bay Villas & Spa Company Limited (ငပလီဘေး ဗီလာ အန်ဒ် စပါး ကုမ္ပဏီ လီမိတက်)သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာန/ အဖွဲ့အစည်းများမှ ချမှတ်ထားသော တည်ဆဲစည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ရမည်။

၂၅။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်

ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာ ဌာနများမှ ထုတ်ပေးထားသော လုပ်ငန်း လိုင်စင်များနှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှ တင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့်လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ အဆိုပြုလုပ်ငန်းကို နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့် လုပ်ငန်းလိုင်စင်များနှင့် ပြည်ပမှ တင်သွင်းသည့် ပစ္စည်းများကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း၊ ရောင်းချကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာ အစိုးရ ဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၃၂(င)အရ နောင်တွင်မည်သည့် ခွင့်ပြုမိန့်မျှထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စီးပွားရေးလုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၂၆။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူ ရမည်။

18.7.18

(ကျော်ဝင်း)

ဥက္ကဋ္ဌ

စာအမှတ်၊မရက-၄ /မ-၁၅၅၀/၂၀၁၆ (၇၇၄-၁)

ရက်စွဲ ၊ ၂၀၁၆ ခုနှစ် ဇူလိုင်လ ၁၈ ရက်

**ဖြန့်ဝေခြင်း-**

ပြည်ထောင်စု အစိုးရအဖွဲ့ရုံး

ပြည်ထဲရေးဝန်ကြီးဌာန

ကာကွယ်ရေးဝန်ကြီးဌာန

သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာန

လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန

အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန

စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန

ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာန

စစ်ထောက်ချုပ်ရုံး(ကြည်း)၊ ကာကွယ်ရေးဝန်ကြီးဌာန

ရခိုင်ပြည်နယ်အစိုးရအဖွဲ့ရုံး ၊စစ်တွေမြို့

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ လျှပ်စစ်ဓါတ်အားပို့လွှတ်ရေးနှင့် ကွပ်ကဲရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများမော်ကွန်းတိုက်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန

ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံ ခရီးသွားလုပ်ငန်းအဖွဲ့ချုပ်

မန်နေဂျင်း ဒါရိုက်တာ ၊ Ngapali Bay Villas & Spa Company Limited (ငပလီဘေး ဗီလာ အန်ဒ် စပါး ကုမ္ပဏီ လီမိတက်)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)
စစ်ထောက်ချုပ်ရုံး

စာအမှတ်၊၉၀၄/မသ-ဟိုတယ်/ထောက်၅က
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ မတ်လ ၁၅ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ မြပြင်ကျေးရွာ၊ ငပလီကမ်းခြေရှိ မြေ(၄. ၃၄)ဧကအား ဟိုတယ်လုပ်ငန်းလုပ်ကိုင်ရန်အတွက် Ngapali Bay Villas & Spa Co.,Ltd. သို့ ငှားရမ်းခွင့် တင်ပြခြင်း**

၁။ ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ မြပြင်ကျေးရွာ၊ ငပလီကမ်းခြေရှိ ကာကွယ်ရေးဝန်ကြီးဌာနပိုင်မြေ (၄. ၃၄)ဧကအားငှားရမ်း၍ဟိုတယ်လုပ်ငန်းများတည်ဆောက်လုပ်ကိုင်ရန်အတွက် **Ngapali Bay Villas & Spa Co.,Ltd.**မှ အောက်ပါအတိုင်းတင်ပြလာခဲ့ပါသည်-

(က) **ကုမ္ပဏီအမည်။ Ngapali Bay Villas & Spa Co.,Ltd.** ။

(ခ) **အဆိုပြုမြေ။** ရခိုင်ပြည်နယ်၊သံတွဲမြို့နယ်၊ မြပြင်ကျေးရွာ၊ငပလီကမ်းခြေရှိမြေ(၄. ၃၄)ဧက။

(ဂ) **ဆောင်ရွက်မည့်လုပ်ငန်း။** ဟိုတယ်လုပ်ငန်းများ။

(ဃ) **ရင်းနှီးမြှုပ်နှံမှုပမာဏ။** မြန်မာကျပ်ငွေ(၂၈၀၀၀)သိန်း။

(င) **ငှားရမ်းလိုသည့်နှစ်။** (၅၀+၁၀+၁၀)နှစ်(၇၀)( B.O.T )

(စ) **မြေငှားရမ်းခ။** မြေငှားရမ်းခကို အောက်ပါအတိုင်းပေးသွင်းမည်ဖြစ်ပါသည်-

(၁) မြေ(၄. ၃၄)ဧကအတွက် မြေအသုံးချမှု ပရီမီယံကြေး မြေ(၁)ဧကလျှင်မြန်မာငွေကျပ် (၂၅၀၀)သိန်းနှုန်းဖြင့် မြေ(၄. ၃၄)ဧကအတွက် ကျသင့်ငွေ(၁၀၈၅၀)သိန်းအား စာချုပ်လက်မှတ်ရေးထိုးသည့် နေ့မှစ၍(၄)ကြိမ်ခွဲပြီးပေးသွင်းပါမည်။

(၂) မြေငှားရမ်းခအဖြစ်မြန်မာငွေကျပ်(၂၁၇)သိန်းနှင့်US$ (၁၀၈၅၀)ကို(၁)နှစ်လျှင်(၁)ကြိမ် ပေးသွင်းပါမည်။

၂။ ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊မြပြင်ကျေးရွာ၊ ငပလီကမ်းခြေရှိ ကာကွယ်ရေးဝန်ကြီးဌာနပိုင်မြေ (၄. ၃၄)ဧကအားငှားရမ်း၍ဟိုတယ်လုပ်ငန်းများတည်ဆောက်လုပ်ကိုင်ရန်အတွက် **Ngapali Bay Villas & Spa Co.,Ltd.**သို့ ငှားရမ်းခွင့်နှင့်ပတ်သက်၍ကုန်သွယ်မှုမူဝါဒ ကောင်စီ၏၁၆-၈-၂၀၀၇ရက်စွဲပါစာအမှတ်၊ အမစ/ကသ/၃/၂၅(၅၈၀/၂၀၀၇)အရ သဘောတူခွင့်ပြုခဲ့ပြီး ဖြစ်ပါသည်။

၃။ **Ngapali Bay Villas & Spa Co.,Ltd.**သို့ ငှားရမ်းမည့်မြေ(၄. ၃၄)ဧကမှာ အမှတ်(၅၅)

Hotel(9)-83

ခြေလျင်တပ်ရင်း(တိုးချဲ့)တပ်ပိုင်မြေ မြပြင်ကြေးတိုင်ပြင်ကွင်းရှိ မြေ(၆၃. ၀၅)ဧကသည် ပြည်ထဲရေးဝန်ကြီးဌာန၏ ၁၄-၅-၂၀၀၁ ရက်စွဲပါစာအမှတ်၊၂၀၀/၂-၄/ဦး၁နှင့် ၂၀၀/၂-၅/ဦး၁အရ တပ်ပိုင်မြေအမည်ပေါက်ရရှိပြီးဖြစ်ပါသည်။

၄။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ရင်းနှီးမြှုပ်နှံမှုဥပဒေသစ်ဖြင့် နှစ်ရှည်(၅၀+၁၀+၁၀)နှစ်(၇၀) ( B.O.T )စာချုပ်ချုပ်ဆိုနိုင်ရေး ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)ခွင့်ပြုချက်အရ **Ngapali Bay Villas & Spa Co.,Ltd.**သို့ မြေငှားရမ်းခြင်းအတွက် စာချုပ်ချုပ်ဆိုနိုင်ရေး ပြင်ဆင်ထားရှိပြီး စာချုပ်နှင့် ပတ်သက်၍ ရှေ့နေချုပ်ရုံး၏ အကြံပြုချက်များရရှိပြီးဖြစ်ပါသည်။

၅။ သို့ဖြစ်ပါ၍ ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊မြပြင်ကျေးရွာ၊ ငပလီကမ်းခြေရှိ ကာကွယ်ရေးဝန်ကြီးဌာနပိုင်မြေ (၄. ၃၄)ဧကအားငှားရမ်း၍**Ngapali Bay Villas & Spa Co.,Ltd.**မှ ဟိုတယ်လုပ်ငန်းများတည်ဆောက် လုပ်ကိုင်ရန်အတွက် ငှားရမ်းခြင်းဆိုင်ရာလုပ်ငန်းများနှင့်ပတ်သက်၍ ရင်းနှီးမြှုပ်နှံမှုအချက်အလက်များအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အနေဖြင့် လိုအပ်သလို စိစစ်ခွင့်ပြုနိုင်ပါရန် တင်ပြအပ်ပါသည်။

ပူးတွဲပါ။ စာချုပ်(မူကြမ်း) (၁)စုံ။

စစ်ထောက်ချုပ်

မိတ္တူကို

ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန

Hotel(9)-84

NGAPALI BAY
VILLAS & SPA

သို့

စစ်ထောက်ချုပ်

ကာကွယ်ရေးဝန်ကြီးဌာန

နေပြည်တော်။

စာအမှတ် ။ ။ NPLB/MIC/2016001

ရက်စွဲ ။ ။၂၀၁၆ ခုနှစ်၊ မတ်လ (၉) ရက်။

အကြောင်းအရာ ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြု ပေးပို့ခြင်း။

၁။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ "ငပလီဘေးဗီလာ အန်ဒ် စပါး ကုမ္ပဏီလီမိတက်" (Ngapali Bay Villas & Spa Co., Ltd) သည် ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ ငပလီမြို့နယ်၊ မြပြင်ရပ်ကွက်တွင် တည်ရှိသော ကာကွယ်ရေးဝန်ကြီးဌာနပိုင် မြေ (၄.၃၄) ဧကအား (BOT) စနစ်ဖြင့် ငှားရမ်းခြင်း သဘောတူစာချုပ်ကို ၂၀၀၇ ခုနှစ်၊ စက်တင်ဘာလ (၁၃) ရက်နေ့တွင် ကာကွယ်ရေးဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံး နှင့် စာချုပ်ချုပ်ဆိုခဲ့ပါသည်။

၂။ ယခုအခါတွင် ကျွန်တော်များ Ngapali Bay Villas & Spa ၏ ထပ်မံတိုးချဲ့မည့်လုပ်ငန်းများ လုပ်ကိုင်ဆောင်ရွက်ရန်နှင့် ခွင့်ပြုမိန့်ရရှိနိုင်ရန်အတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ စစ်ထောက်ချုပ်ရုံး အနေဖြင့် ဆက်လက်တင်ပြပေးပါရန် Ngapali Bay Villas & Spa ၏ အဆိုပြုလွှာ (၁) အား ပူးတွဲ တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

Thandar Ne Win
Managing Director
Ngapali Bay Villas & Spa Co., Ltd



**No.388/398, Corner of Kannar Street and Sin Min Street, #4F-4B, Ahlone Township, Yangon, Myanmar**
**Tel : +951 2300932, Fax: +951 2301076, Email : director@ngapalibay.com**

NGAPALI BAY
VILLAS & SPA

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ် ။ ။ NPLB/MIC/2016002
ရက်စွဲ ။ ။ ၂၀၁၆ ခုနှစ်၊ မတ်လ (၉) ရက်။

အကြောင်းအရာ ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြု ပေးပို့ခြင်း။

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ "ငပလီဘေးဗီလာ အန်ဒ် စပါး ကုမ္ပဏီ လီမိတက်" (Ngapali Bay Villas & Spa Co., Ltd) သည် ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ ငပလီမြို့နယ်၊ မြပြင်ရပ်ကွက် တွင် တည်ရှိသော ကာကွယ်ရေးဝန်ကြီးဌာနပိုင် မြေ (၄.၃၄) ဧကတွင် Ngapali Bay Villas & Spa ၏ ထပ်မံတိုးချဲ့မည့်လုပ်ငန်းများ လုပ်ကိုင်ဆောင်ရွက်ရန်နှင့် ခွင့်ပြုမိန့်ရရှိနိုင်ရန်အတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာများကို ပေးပို့ တင်ပြလျှောက်ထားအပ်ပါသည်။

လေးစားစွာဖြင့်

Thandar Ne Win
Managing Director
Ngapali Bay Villas & Spa Co., Ltd



No.388/398, Corner of Kannar Street and Sin Min Street, #4F-4B, Ahlone Township, Yangon, Myanmar
Tel : +951 2300932, Fax: +951 2301076, Email : director@ngapalibay.com

လျှို့ဝှက်

NGAPALI BAY
VILLAS & SPA

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ် ॥ ॥ NBLB/MIC/2016004
ရက်စွဲ ॥ ॥ ၂၀၁၆ ခုနှစ်၊ မတ်လ (၉) ရက်။

အကြောင်းအရာ ॥ ॥ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်နှင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၁၁)၊ ပုဒ်မ (၂၀)အရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ လျှောက်ထားခြင်း။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းတည် ထောင်ထားသည့် "ငပလီဘေးဗီလာ အန်ဒ် စပါး ကုမ္ပဏီလီမိတက်" (Ngapali Bay Villas & Spa Co., Ltd) သည် ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ ငပလီမြို့နယ်၊ မြပြင်ရပ်ကွက် တွင် တည်ရှိသော ကာကွယ်ရေးဝန်ကြီးဌာနပိုင် မြေ (၄.၃၄) ကေတွင် Ngapali Bay Villas & Spa ၏ ထပ်မံတိုးချဲ့မည့်လုပ်ငန်းများ လုပ်ကိုင် ဆောင်ရွက်ရန်နှင့် ခွင့်ပြုမိန့်ရရှိနိုင်ရန်အတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့် (Permit) ကို လျှောက်ထား အပ်ပါသည်။

၂။ အပန်းဖြေစခန်းအတွက် စုစုပေါင်းရင်းနှီးမြှုပ်နှံမှု ကျပ် (၇၅၉၀.၈၉) သန်းတွင် ငွေသားကျပ်(၁၀၀)သန်း၊ စက်ပစ္စည်းကိရိယာ တန်ဖိုး ပြည်တွင်းကျပ် (၁၇၂၀.၂၅) သန်း၊ အဆောက် အဦးတန်ဖိုးကျပ် (၅၄၁၁)သန်း၊ ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းတန်ဖိုး ကျပ် (၁၆.၁၄)သန်း၊ လုပ်ငန်းသုံးပစ္စည်းများ တန်ဖိုးကျပ် (၃၄၃.၅) သန်းတို့ဖြင့် ထည့်ဝင်ရင်းနှီး မြှုပ်နှံမည်ဖြစ်ပါသည်။

၃။ သို့ဖြစ်ပါ၍ နိုင်ငံတော်အတွက် အခွန်ဘဏ္ဍာငွေများရရှိစေရန်အတွက်လည်းကောင်း၊ မြန်မာ နိုင်ငံသားများအတွက် အလုပ်အကိုင်သစ်များ ပေါ်ပေါက်လာစေရန်အတွက်လည်းကောင်း၊ အပန်းဖြေစခန်းလုပ်ငန်း နည်းပညာရပ်များတိုးတက်လာ စေရန်အတွက်လည်းကောင်း၊ မြန်မာ နိုင်ငံ၏စီးပွားရေးဖွံ့ဖြိုးတိုးတက်လာ စေရန်အတွက်လည်းကောင်း ပြည်တွင်း၊ ပြည်ပမှ ခရီးသွား ဧည့်သည်များ အဆင်ပြေစေနိုင်ရန်အတွက် လည်းကောင်း၊ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုအဖြစ် လျှောက်ထားခြင်းကို လက်ခံစဉ်းစားပေးပါရန်နှင့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၁၁)၊ ပုဒ်မ (၂၀)အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့် နှင့် သက်သာခွင့် တို့ကိုလည်း ခံစားခွင့်ပြုပါရန် လျှောက်ထားအပ်ပါသည်။

လျှို့ဝှက်

No.388/398, Corner of Kannar Street and Sin Min Street, #4F-4B, Ahlone Township, Yangon, Myanmar
Tel : +951 2300932, Fax: +951 2301076, Email : director@ngapalibay.com

NGAPALI BAY
VILLAS & SPA

၄။ အဆိုပါရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အနေဖြင့် ခွင့်ပြုမိန့် ထုတ်ပေး နိုင်ပါရန် ဤလျှောက်လွှာနှင့်အတူ အောက်ဖော်ပြပါ အထောက်အထား စာရွက်စာတမ်း များကို ပူးတွဲတင်ပြအပ်ပါသည်။

(က) ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ကမကထပြုသူ၏ လုပ်ငန်းဆောင်ရွက်ရန်အဆိုပြုချက်

(ခ) ဘဏ္ဍာရေးအချက်အလက်များနှင့် ပတ်သက်၍ တွက်ချက်မှုဇယားများ၊

(ဂ) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေးအထောက်အထားများ၊

(ဃ) သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း၊

လေးစားစွာဖြင့်

Thandar Ne Win
Managing Director
Ngapali Bay Villas & Spa Co., Ltd

လျှို့ဝှက်

No.388/398, Corner of Kannar Street and Sin Min Street, #4F-4B, Ahlone Township, Yangon, Myanmar
Tel : +951 2300932, Fax: +951 2301076, Email : director@ngapalibay.com

NGAPALI BAY
VILLAS & SPA

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ် ။ ။ NPLB/MIC/2016003

ရက်စွဲ ။ ။၂၀၁၆ ခုနှစ်၊ မတ်လ (၉) ရက်။

အကြောင်းအရာ ။ ။ "ငပလီဘေးဗီလာ အန်ဒ် စပါး ကုမ္ပဏီလီမိတက်" (Ngapali Bay Villas & Spa Co., Ltd) မှ Villas & Spa လုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်ခြင်းနှင့် ပတ်သက်၍ ကတိဝန်ခံချက်တင်ပြခြင်း။

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများရင်း နှီးမြှုပ်နှံမှုဥပဒေအရ "ငပလီဘေးဗီလာ အန်ဒ် စပါး ကုမ္ပဏီလီမိတက်" (Ngapali Bay Villas & Spa Co., Ltd) သည် ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ ငပလီမြို့နယ်၊ မြပြင်ရပ်ကွက် တွင် တည်ရှိသော ကာကွယ်ရေးဝန်ကြီးဌာနပိုင်မြေ (၄.၃၄) ဧကတွင် Ngapali Bay Villas & Spa ၏ ထပ်မံတိုးချဲ့မည့်လုပ်ငန်းများ လုပ်ကိုင်ဆောင်ရွက်ရန်နှင့် ခွင့်ပြုမိန့်ရရှိနိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလျှောက်ထားခြင်းဖြစ်ပါသည်။ ထိုသို့လျှောက်ထားရာတွင် အောက်ပါတို့ကို ဝန်ခံကတိပြုအပ်ပါသည်။

(က) ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပါသည်။ ဤလုပ်ငန်းတွင် နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှုမရှိပါကြောင်း ဝန်ခံကတိပြု တင်ပြအပ်ပါသည်။

(ခ) ဤလုပ်ငန်းသည် အသစ်ထပ်မံ တိုးချဲ့ ရင်းနှီးမြှုပ်နှံမည့် လုပ်ငန်းဖြစ်ပါသည်။

(ဂ) အသစ်ထပ်မံ တိုးချဲ့တည်ဆောက်မည့် အဆောက်အဦးများအား ရခိုင်ရိုးရာ ခြေတံရှည်နှစ်ထပ်အိမ်ပုံစံများ ဖြင့် တည်ဆောက်သွားမည် ဖြစ်ပြီး ဒေသတွင်း သတ်မှတ်ထားသော အဆောက်အဦး၏ အမြင့်ပေ နှင့် အခြားစည်းမျဉ်းစည်းကမ်းများကို လိုက်နာဆောင်ရွက်ပါမည်ဟု ကတိပြုပါသည်။



No.388/398, Corner of Kannar Street and Sin Min Street, #4F-4B, Ahlone Township, Yangon, Myanmar
Tel : +951 2300932, Fax: +951 2301076, Email : director@ngapalibay.com

NGAPALI BAY VILLAS & SPA

(ဃ) နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့်စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ပါမည်ဟု ကတိပြုပါသည်။

(င) ထို့အပြင် ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင်လည်း ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ၊ မီးဘေးကြိုတင်ကာကွယ်မှုများ၊ ပြုလုပ်ဆောင်ရွက်ထားမည်ဖြစ်ပါကြောင်းနှင့် ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်၏ နည်းဥပဒေ၊ စည်းမျဥ်းစည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ပတ်ဝန်းကျင် ညစ်ညမ်းမှု မရှိစေရန် အကောင်အထည်ဖော် ဆောင်ရွက်သွားမည်ဟု ဝန်ခံကတိပြုပါသည်။

(စ) Ngapali Bay Villas & Spa လုပ်ငန်းမှ ထွက်ရှိလာသော စွန့်ပစ်ပစ္စည်းများကို ဥပဒေလုပ်ထုံးလုပ်နည်းများနှင့်အညီ စနစ်တကျ စွန့်ပစ်မည်ဖြစ်ပါသည်။ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနတို့မှ စည်းကမ်းချက် များကိုလည်း လိုက်နာဆောင်ရွက်မည်ဖြစ်ပါသည်။

(ဆ) မီးဘေးကြိုတင်ကာကွယ်မှုအတွက် အစီအမံများပြုလုပ်သွားမည်ဟု ဝန်ခံကတိပြုပါသည်။

(ဇ) "ငပလီဘေးဗီလာ အန်းဒ် စပါး ကုမ္ပဏီလီမိတက်" (Ngapali Bay Villas & Spa Co., Ltd) အနေဖြင့် ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၊ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာနတွင် မှတ်ပုံတင်ထားရှိမည်ဖြစ်ပြီး၊ ရခိုင်ပြည်နယ်၊ တိုင်းဒေသကြီးအစိုးရ၏ ကြီးကြပ်မှုကို ခံယူဆောင်ရွက်မည် ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(ဈ) ဤလုပ်ငန်းမှရရှိသော နိုင်ငံခြားငွေများကို MICB (သို့မဟုတ်) MFTB ရှိ ကုမ္ပဏီ၏ ငွေစာရင်းသို့ မပျက်မကွက်ပေးသွင်းမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(ည) "ငပလီဘေးဗီလာ အန်းဒ် စပါး ကုမ္ပဏီလီမိတက်" (Ngapali Bay Villas & Spa Co., Ltd) အနေဖြင့် ဟိုတယ်၏ ဝယ်ယူမည့် စက်ပစ္စည်းများသည် အသစ်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။



No.388/398, Corner of Kannar Street and Sin Min Street, #4F-4B, Ahlone Township, Yangon, Myanmar
Tel : +951 2300932, Fax: +951 2301076, Email : director@ngapalibay.com

NGAPALI BAY
VILLAS & SPA

(၄) လျှပ်စစ်မီး အသုံးပြုမှုနှင့်ပတ်သက်၍ မဟာဓါတ်အားလိုင်းမှ လျှပ်စစ်မီးမရရှိသည့်အခါတွင် ကိုယ်ပိုင် Generator (350 KVA) ဖြင့် အသုံးပြုမည်ဖြစ်ပါသည်။

လေးစားစွာဖြင့်

Thandar Ne Win
Managing Director
Ngapali Bay Villas & Spa Co., Ltd



No.388/398, Corner of Kannar Street and Sin Min Street, #4F-4B, Ahlone Township, Yangon, Myanmar
Tel : +951 2300932, Fax: +951 2301076, Email : director@ngapalibay.com

လျှို့ဝှက်

# NGAPALI BAY VILLAS & SPA

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရက်စွဲ။ ။၂၀၁၆ ခုနှစ်၊ မတ်လ (၉) ရက်။

အကြောင်းအရာ ။ ။ "ငပလီဘေးဗီလာ အန်ဒ် စပါး ကုမ္ပဏီလီမိတက်" (Ngapali Bay Villas & Spa Co., Ltd) မှ Ngapali Bay Villas & Spa လုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်ခြင်းအတွက် လျှပ်စစ်ဓါတ်အား အသုံးပြုမှုနှင့် ပတ်သတ်၍ကတိဝန်ခံချက်တင်ပြခြင်း။

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ "ငပလီဘေးဗီလာ အန်ဒ် စပါး ကုမ္ပဏီလီမိတက်" (Ngapali Bay Villas & Spa Co., Ltd) သည် ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ ငပလီမြို့နယ်၊ မြပြင်ရပ်ကွက် တွင် တည်ရှိသော ကာကွယ်ရေးဝန်ကြီးဌာနပိုင် မြေ (၄.၃၄) ဧကတွင် Ngapali Bay Villas & Spa ၏ ထပ်မံတိုးချဲ့မည့်လုပ်ငန်းများ လုပ်ကိုင် ဆောင်ရွက်ရန်နှင့် ခွင့်ပြုမိန့်ရရှိနိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလျှောက်ထားခဲ့ပါသည်။

၂။ ထိုသို့ Ngapali Bay Villas & Spa လုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်ရာတွင် လျှပ်စစ်ဓါတ်အား အသုံးပြုမှုနှင့်ပတ်သတ်၍ မဟာဓါတ်အားလိုင်းမှ လျှပ်စစ်ဓာတ်အား အလုံအလောက် မရရှိသည့်အခါတွင် ကိုယ်ပိုင် Generator (250 KVA) နှင့် (100 KVA) တစ်လုံးစီဖြင့် ဓါတ်အားလိုအပ်ချက်ပေါ်မူတည်၍ အသုံးပြုသွားမည် ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

Thandar Ne Win
Managing Director
Ngapali Bay Villas & Spa Co., Ltd

လျှို့ဝှက်

No.388/398, Corner of Kannar Street and Sin Min Street, #4F-4B, Ahlone Township, Yangon, Myanmar
Tel : +951 2300932, Fax: +951 2301076, Email : director@ngapalibay.com

NGAPALI BAY
VILLAS & SPA

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရက်စွဲ။ ။၂၀၁၆ ခုနှစ်၊ မတ်လ (၉) ရက်။

အကြောင်းအရာ ။ ။ "ငပလီဘေးဗီလာ အန်ဒ် စပါး ကုမ္ပဏီလီမိတက်" (Ngapali Bay Villas & Spa Co., Ltd) မှ Ngapali Bay Villas & Spa လုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ပိုင်ဆိုင်မှုနှင့် ပတ်သတ်၍ကတိဝန်ခံချက်တင်ပြခြင်း။

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ "ငပလီဘေးဗီလာ အန်ဒ် စပါး ကုမ္ပဏီလီမိတက်" (Ngapali Bay Villas & Spa Co., Ltd) သည် ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ ငပလီမြို့နယ်၊ မြပြင်ရပ်ကွက်တွင်တည်ရှိသော ကာကွယ်ရေးဝန်ကြီးဌာနပိုင် မြေ (၄.၃၄) ဧကတွင် Ngapali Bay Villas & Spa ၏ ထပ်မံတိုးချဲ့မည့်လုပ်ငန်းများ လုပ်ကိုင်ဆောင်ရွက်ရန်နှင့် ခွင့်ပြုမိန့်ရရှိနိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြ လျှောက်ထားခဲ့ပါသည်။

၂။ Ngapali Bay Villas & Spa လုပ်ငန်းမှာ မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပါသည်။ မည်သည့်နိုင်ငံခြားမှ လုပ်ငန်းရှင်များ ပိုင်ဆိုင်ခြင်းမရှိကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

Thandar Ne Win
Managing Director
Ngapali Bay Villas & Spa Co., Ltd



No.388/398, Corner of Kannar Street and Sin Min Street, #4F-4B, Ahlone Township, Yangon, Myanmar
Tel : +951 2300932, Fax: +951 2301076, Email : director@ngapalibay.com

NGAPALI BAY VILLAS & SPA

သို့

ဥက္ကဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရက်စွဲ။ ။၂၀၁၆ ခုနှစ်၊ မတ်လ (၉) ရက်။

အကြောင်းအရာ ။ ။ "ငပလီဘေးဗီလာ အန်ဒ် စပါး ကုမ္ပဏီလီမိတက်" (Ngapali Bay Villas & Spa Co., Ltd) မှ Ngapali Bay Villas & Spa လုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်ရာတွင် နိုင်ငံတော်မှ ညွှန်ကြားချက်များ နှင့် ပတ်သတ်၍ သိရှိလိုက်နာ ဆောင်ရွက်မည် ဖြစ်ပါကြောင်း ကတိဝန်ခံချက်တင်ပြခြင်း။

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ "ငပလီဘေးဗီလာ အန်ဒ် စပါး ကုမ္ပဏီလီမိတက်" (Ngapali Bay Villas & Spa Co., Ltd) သည် ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ ငပလီမြို့နယ်၊ မြပြင်ရပ်ကွက် တွင် တည်ရှိသော ကာကွယ်ရေး ဝန်ကြီးဌာနပိုင် မြေ (၄.၃၄) ဧကတွင် Ngapali Bay Villas & Spa Spa ၏ ထပ်မံတိုးချဲ့မည့်လုပ်ငန်းများ လုပ်ကိုင် ဆောင်ရွက်ရန်နှင့် ခွင့်ပြုမိန့်ရရှိနိုင်ရန်အတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလျှောက်ထားခဲ့ပါသည်။

၂။ ထိုသို့ Ngapali Bay Villas & Spa လုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်ရာတွင် အမျိုးသား ယဉ်ကျေးမှုနှင့်ပတ်သက်၍ ထိန်းသိမ်းသွားနိုင်စေရေးအတွက် သက်ဆိုင်ရာဌာန/ အဖွဲ့အစည်း အသီးသီးမှ ညွှန်ကြားချက်များကို သိရှိလိုက်နာဆောင်ရွက် သွားမည်ဖြစ်ပါကြောင်း ဝန်ခံကတိ ပြုအပ်ပါသည်။

လေးစားစွာဖြင့်

Thandar Ne Win
Managing Director
Ngapali Bay Villas & Spa Co., Ltd



No.388/398, Corner of Kannar Street and Sin Min Street, #4F-4B, Ahlone Township, Yangon, Myanmar
Tel : +951 2300932, Fax: +951 2301076, Email : director@ngapalibay.com

လျှို့ဝှက်

NGAPALI BAY VILLAS & SPA

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရက်စွဲ။ ။၂၀၁၆ ခုနှစ်၊ မတ်လ (၉) ရက်။

အကြောင်းအရာ ။ ။ "ငပလီဘေးဗီလာ အန်းဒ် စပါး ကုမ္ပဏီလီမိတက်" (Ngapali Bay Villas & Spa Co., Ltd) မှ Ngapali Bay Villas & Spa လုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်ရာတွင် CSR လုပ်ငန်း များ လျာထားခြင်းကိစ္စ။

အထက်အကြောင်းအရာပါ ကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ "ငပလီဘေးဗီလာ အန်းဒ် စပါး ကုမ္ပဏီလီမိတက်" (Ngapali Bay Villas & Spa Co Ltd) သည် ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ ငပလီမြို့နယ်၊ မြပြင်ရပ်ကွက်တွင် တည်ရှိသော ကာကွယ်ရေးဝန်ကြီးဌာနပိုင်မြေ (၄.၃၄) ဧက တွင် Ngapali Bay Villas & Spa လုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်ရာတွင် CSR (Corporate Social Responsibility) အတွက် Net Profit ၏ (၂%) ကို လျာထား၍ လူမှုအကျိုးပြုလုပ်ငန်းများတွင် သုံးစွဲသွားမည်ဖြစ်ကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

Thandar Ne Win
Managing Director
Ngapali Bay Villas & Spa Co., Ltd

လျှို့ဝှက်

# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

## ရင်းနှီးမြှုပ်နှံလိုသူ၏

## အဆိုပြုချက်

<u>လျှို့ဝှက်</u>

ပုံစံ (မနသ-၁)

# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ

## ရင်းနှီးမြှုပ်နှံလိုသူ၏ အဆိုပြုချက်

## ဥပဒေပုဒ်မ ၂ ပုဒ်မခွဲ (ဂ)နှင့် ပုဒ်မ ဂ

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့။

စာအမှတ်။ ။ NPLB/MIC/2016005

ရက်စွဲ။ ။ ၂၀၁၆ ခုနှစ်၊ မတ်လ (၉) ရက်။

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုပါသဖြင့် ခွင့်ပြုမိန့်ထုတ်ပေးပါရန် အောက်ပါအချက်များကိုဖော်ပြ၍ လျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံလိုသူ၏-

| | |
|---|---|
| (က) အမည် | - ဒေါ်သန္တာနေဝင်း |
| (ခ) အဖအမည် | - ဦးနေဝင်း |
| (ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် | - ၁၂/ဗဟန(နိုင်) ဂ၈၄၄၄၈ |
| (ဃ) နေရပ်လိပ်စာ | - အမှတ်(၇)၊ ကုက္ကိုင်းရိပ်သာလမ်း ရွှေတောင်ကြား (၂) ရပ်ကွက်၊ ဗဟန်းမြို့ ရန်ကုန်တိုင်းဒေသကြီး။ |
| (င) လူမျိုး၊ ဘာသာ | - မြန်မာ၊ ဗုဒ္ဓဘာသာ |
| (စ) အဖွဲ့အစည်းအမည် | - ငပလီဘေးဗီလာ အန်ဒ် စပါး ကုမ္ပဏီလီမိတက် **(Ngapali Bay Villas & Spa Co., Ltd)** |

<u>လျှို့ဝှက်</u>

လျှို့ဝှက်

(ဆ) လုပ်ငန်းအမျိုးအစား - ဟိုတယ်လုပ်ငန်း

(ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် - အမှတ် ၃၈၈/၃၉၈၊ ကမ်းနားလမ်း နှင့် ဆင်မင်းလမ်းထောင့်၊ အခန်းအမှတ် ၄-ဘီ၊ ၄ လွှာ၊ အလုံမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါက ဖက်စပ်ပြုလုပ်မည့်သူများ၏-

(က) အမည် (၁)........................ (၂)...........................

........................ ...........................

(ခ) အဖအမည် (၁)........................ (၂)...........................

........................ ...........................

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ်

(၁)........................ (၂)...........................

........................ ...........................

........................ ...........................

(ဃ) နေရပ်လိပ်စာ (၁)........................ (၂)...........................

........................ ...........................

........................ ...........................

(င) လူမျိုး၊ ဘာသာ (၁)........................ (၂)...........................

........................ ...........................

........................ ...........................

(စ) အဖွဲ့အစည်းအမည် ........................................................

(ဆ) လုပ်ငန်းအမျိုးအစား ........................................................

(ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် ........................................................

(နှစ်ဦး သို့မဟုတ် အဖွဲ့အစည်း ၂ ခုထက်ပိုပါက သီးခြားစာရွက်တွင်ဖော်ပြပူးတွဲရန်)

လျှို့ဝှက်

လျှို့ဝှက်

၃။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား-

(က) ကုန်ထုတ်လုပ်မှုလုပ်ငန်း -

(ခ) ဝန်ဆောင်မှုလုပ်ငန်း - Ngapali Bay Villas & Spa လုပ်ငန်းများ ဆောင်ရွက်ရန်

(ကုန်ပစ္စည်းအမည် သို့မဟုတ် ဝန်ဆောင်မှုအမျိုးအစားကိုဖော်ပြရန်)

၄။ လုပ်ကိုင်မည့် စီးပွားရေးပုံစံ-

(က) နိုင်ငံသားနှင့် နိုင်ငံသားတို့က အစုစပ်လုပ်ကိုင်ဆောင်ရွက်ခြင်း။

..............လီမိတက် ကုမ္ပဏီ(နောက်ဆက်တွဲ-၁)..................

(ခ) အဖွဲ့အစည်းနှင့် နိုင်ငံသားတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း။

.........................................................................................

(ဂ) အဖွဲ့အစည်းနှင့် အခြားအဖွဲ့အစည်းတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း။

.........................................................................................

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ် ဖွဲ့စည်းမည့် စီးပွားရေးအဖွဲ့အစည်းပုံသဏ္ဍာန်-

(က) တစ်ဦးတည်းပိုင် ............................................................

(ခ) ဖက်စပ်/အစုစပ်လုပ်ငန်း ............................................................

(ဂ) လီမိတက်ကုမ္ပဏီ ငပလီဘေးဗီလာ အန်ဒ် စပါး ကုမ္ပဏီလီမိတက်

(ဃ) သမဝါယမအသင်း ...............................................................

(အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ/အများပိုင် ကုမ္ပဏီဟုဖော်ပြ၍ ထည့်ဝင်မည့် မတည်ငွေရင်းအချိုးအစား၊ စီမံခန့်ခွဲသူ/ စီမံခန့်ခွဲမည့်သူများ၏ အမည်၊ နေရပ်လိပ်စာများနှင့် ရာထူးတို့ကို ပူးတွဲတင်ပြရန်)

လျှို့ဝှက်

၆။ ဖက်စပ်/အစုစပ်လုပ်ငန်းဖြစ်ပါက-

(က) အစုစပ်တို့က ထည့်ဝင်မည့် အစုငွေအမျိုးအစားနှင့် ပမာဏ

..............................................................................

(ခ) အကျိုးအမြတ်ခွဲဝေမည့် အမျိုးအစား ........................................................

(ဂ) အစုဝင်များ၏ တာဝန်နှင့် လုပ်ပိုင်ခွင့်များ ....................................................

(နေရာမလုံလောက်က သီးခြားစာရွက်ဖြင့် ဖော်ပြရန်)။

၇။ သမဝါယမအသင်း/ လီမိတက်ကုမ္ပဏီဖြစ်ပါက-

(က) ခွင့်ပြုမ,တည်ငွေရင်း - ကျပ် ၅၀၀,၀၀၀,၀၀၀/ (ကျပ်သန်းငါးရာတိတိ)

(ခ) အစုရှယ်ယာအမျိုးအစား - ကျပ် ၁,၀၀၀၀၀ တန် ၅,၀၀၀ အစုရှယ်ယာ

(ဂ) အစုရှယ်ယာများက ထည့်ဝင်မည့် အစုရှယ်ယာ ပမာဏ - ၅၀၀,၀၀၀ ရှယ်ယာ

(ကျပ် ၅၀၀,၀၀၀,၀၀၀)

၈။ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုသည့် အဖွဲ့အစည်းနှင့်သက်ဆိုင်သော အချက်အလက်များ-

| **(က) မတည်ငွေရင်းပမာဏ (ကျပ်သန်းပေါင်း)** | | **မူလ (ကျပ်သန်း)** | **တိုးချဲ့ (ကျပ်သန်း)** | **စုစုပေါင်း (ကျပ်သန်း)** |
|---|---|---|---|---|
| (၁) | ငွေပမာဏ | ၁၀၀ | - | ၁၀၀ |
| (၂) | စက်ပစ္စည်းကိရိယာများ တန်ဖိုးပမာဏ နောက်ဆက်တွဲ (၂-က၊၂-ခ) | ၁၀၇၅.၈၈ | ၆၄၄.၃၇ | ၁၇၂၀.၂၅ |
| (၃) | အဆောက်အအုံ နောက်ဆက်တွဲ (၅-က၊ ၅ခ) | ၂၄၁၀ | ၃၀၀၁ | ၅၄၁၁ |
| (၄) | ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများ တန်ဖိုးပမာဏ နောက်ဆက်တွဲ (၄) | ၁၆.၁၄ | - | ၁၆.၁၄ |
| (၅) | ဟိုတယ်လုပ်ငန်းသုံး ပစ္စည်းများ နောက်ဆက်တွဲ (၃-က၊ ၃-ခ) | ၂၁၀.၅၉ | ၁၃၂.၉၁ | ၃၄၃.၅၀ |
| **စုစုပေါင်း** | | **၃၈၁၂.၆၁** | **၃၇၇၈.၂၈** | **၇၅၉၀.၈၉** |

| | | | |
|---|---|---|---|
| (ခ) | နိုင်ငံခြားမှ တင်သွင်းရန် လိုအပ်သည့် | ကျပ် (၀၀၀) | US$(000) |
| (၁) | စက်ပစ္စည်းများ၊ စက်ကိရိယာများ စသည့် ပစ္စည်းတို့၏ တန်ဖိုးပမာဏ | - | - |
| (၂) | ကုန်ကြမ်းပစ္စည်းများနှင့် အခြားအလားတူ ပစ္စည်းများ၏တန်ဖိုး | - | - |
| (၃) | ကျွမ်းကျင်မှုနည်းပညာရပ်များ၏ တန်ဖိုးပမာဏ | - | - |
| | **စုစုပေါင်း** | - | - |

US$ = ၁၂၀၀ ကျပ်

(ဂ) တည်ဆောက်မှုကာလ - (၁၂)လ

(ဃ) ပဏာမစူးစမ်းလေ့လာမှုပြုလုပ်မည့်ကာလ -

(င) တည်ဆောက်မှု စတင်မည့်အချိန် - ခွင့်ပြုမိန့်ရရှိပြီးလျှင်ပြီးခြင်း လုပ်ငန်း စတင်မည်ဖြစ်ပါသည်။

၉။ ဆောင်ရွက်မည့် စီးပွားရေးလုပ်ငန်းနှင့် သက်ဆိုင်သောအချက်အလက်များ-

(က) လုပ်ငန်းအမျိုးအစား (ကုန်ထုတ်လုပ်မှု/ ဝန်ဆောင်မှုစသည်ဖြင့်ဖော်ပြရန်) - Ngapali Bay Villas & Spa ဝန်ဆောင်မှုလုပ်ငန်း

(ခ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသများ - ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ ငပလီမြို့နယ်၊ မြပြင်ရပ်ကွက်၊ ငပလီကမ်းခြေ။

(ဂ) ဆောင်ရွက်ပုံနည်းစနစ် - ငပလီကမ်းခြေတွင် Ngapali Bay Villas & Spa ဟိုတယ် ဂန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ရန်။

<u>လျှို့ဝှက်</u>

(ဃ) နှစ်စဉ်စက်သုံးဆီလိုအပ်ချက်-

| | **အမျိုးအစား** | **အရေအတွက်** |
|---|---|---|
| ၁။ | ဒီဇယ်ဆီ | ၅,၀၀၀ ဂါလံ |
| ၂။ | ဓါတ်ဆီ | ၁,၀၀၀ ဂါလံ |
| ၃။ | စက်ဆီ၊ ချောဆီ | ၂၀၀ ဂါလံ |

(င) နှစ်စဉ် လျှပ်စစ်ဓါတ်အားလိုအပ်ချက်-

| | **အားအသုံးပြုမှု** | **မြင်းကောင်ရေ** |
|---|---|---|
| ၁။ | လျှပ်စစ်ဓာတ်အား | 315 KVA Transformer |
| ၂။ | ဓာတ်ဆီ/ ဒီဇယ်အင်ဂျင်စက်အင်အား | ......................................... |
| ၃။ | ဘွိုင်လာအသုံးပြုအင်ဂျင်စက်အား | ........................................ |
| ၄။ | သဘာဝဓာတ်ငွေ့သုံးစက်အား | ......................................... |
| ၅။ | ပေးပို့သည့်အခြားအား (ရေအား/လေအား စသည်များ) | ......................................... |

(စ) နှစ်စဉ်ရေလိုအပ်ချက် နှစ်စဉ်ရေ ၃၆၀၀၀၀ ဂါလံ
(နေ့စဉ်ရေလိုအပ်ချက်ရှိလျှင်ဖော်ပြရန်) တစ်နေ့လျှင် ၁၀၀၀ ဂါလံ

(ဆ) နှစ်စဉ်လုပ်ငန်းသုံးပစ္စည်း/ ကုန်ကြမ်းလိုအပ်ချက် -

| **အမျိုးအမည်** | **ရေတွက်ပုံ** | **အရေအတွက်** | **တန်ဖိုး (ကျပ်သန်းပေါင်း)** |
|---|---|---|---|
| ၁။ အဓိကကုန်ကြမ်း | | | |
| ၁။..................... | ............ | ................... | .............................. |
| ၂။ ................... | ............. | ..................... | .............................. |
| ၂။ အထောက်အကူကုန်ကြမ်း | | | |
| ၁။..................... | ............ | ................... | .............................. |
| ၂။ ................... | ............. | ................... | .............................. |

<u>လျှို့ဝှက်</u>

လျှို့ဝှက်

၃။ စက်သုံးဆီ/ဓါတ်ငွေ့များ

| | | | |
|---|---|---|---|
| ၁။..................... | ............ | .................. | ............................. |
| ၂။ .................. | ............. | .................. | ............................. |

(ဇ) အဆောက်အအုံလိုအပ်ချက်

| | **မူလ** | **တိုးချဲ့** |
|---|---|---|
| - Villa အဆောက်အဦး | ၂၀ လုံး | - |
| - ရခိုင်ရိုးရာခြေတံရှည် ၂ ထပ်အိမ် | - | ၃ လုံး |
| - ရေကူးကန် | ၁ ကန် | - |
| - ကြာရေကန် | - | ၁ ကန် |
| - ရေကူးကန်ငယ် | ၁၆ ကန် | ၁၂ ကန် |
| - Decking | ၁ ခု | ၁၂ ခု |
| - Reception, Lobby | ၁ ခု | - |
| - Kitchen & Restaurant | ၁ ခု | ၁ ခု |
| - Spa Building | ၁ ခု | - |
| - Office & Housekeeping | ၁ ခု | - |
| - အစည်းအဝေးခန်းမ | ၁ ခု | - |

(ဈ) မြေနေရာအမျိုးအစားနှင့်အကျယ်အဝန်း - မြေ (၄.၃၄) ဧက (၁၈၈၈၀) စတုရန်းပေ လိုအပ်ချက်

(ည) ခန့်မှန်းထုတ်လုပ်မည့် ကုန်ပစ္စည်း/ ဆောက်ရွက်မည့်ဝန်ဆောင်မှု (တစ်နှစ်ပျမ်းမျှ)

| စဉ် | အမျိုးအမည် | ရေတွက်ပုံ | အရေအတွက် | တန်ဖိုး(ဂဂဂ) |
|---|---|---|---|---|
| ၁။ | ..................... | ............ | .................. | ............................. |
| ၂။ | .................. | ............. | .................. | ............................. |

နောက်ဆက်တွဲ (၆)

(ဋ) ရောင်းချမည့်နည်းစနစ် - ငပလီကမ်းခြေ၏ သန့်ရှင်းသာယာ လှပသော သဘာဝ ရှုခင်း အား သဘာဝအတိုင်း မပျက်စီးစေဘဲ ရခိုင်ရိုးရာ နှင့် မြန်မာ့ရိုးရာ တို့အား အခြေခံသော အဆောက်အဦးများ နှင့် ဝန်ဆောင်မှုများဖြစ်သော Ngapali Bay Villas & Spa ဟိုတယ်ဝန်ဆောင် မှုလုပ်ငန်း တစ်ခုဖြစ်ပါသည်။

လျှို့ဝှက်

၁၀။ နှစ်စဉ်ကုန်ထုတ်လုပ်မှု / ဝန်ဆောင်မှုနှင့် စပ်လျဉ်းသော အချက်အလက်များ

| | ခန့်မှန်းခြေ (သန်းပေါင်း) | |
|---|---|---|
| | ကျပ်ငွေ | နိုင်ငံခြားငွေ |
| (က) လုပ်ငန်းလည်ပတ်ရန်လိုအပ်မည့်ကျပ်ငွေ | နောက်ဆက်တွဲ (၉) | - |
| (ခ) လိုအပ်မည့် နိုင်ငံခြားသုံးငွေ | | - |
| (ဂ) ရရှိမည့်နိုင်ငံခြားသုံးငွေပမာဏ | | - |
| (ဃ) ပြည်ပသို့တင်ပို့ရောင်းချနိုင်မည့် ကုန်ပစ္စည်း/ ဝန်ဆောင်မှုတန်ဖိုးပမာဏ | - | - |
| (င) နှစ်စဉ်ပြည်တွင်း၌ ရောင်းချနိုင်မည့် ကုန်ပစ္စည်း/ ဝန်ဆောင်မှုတန်ဖိုးပမာဏ | - | - |

၁၁။ ဆောင်ရွက်မည့် စီးပွားရေးလုပ်ငန်းတွင် လိုအပ်မည့် အမှုထမ်းများစာရင်း -

(က) ပြည်တွင်းမှလိုအပ်မည့် အမှုထမ်းများ-

| **အမှုထမ်းအမျိုးအစား** | **ဦးရေ** |
|---|---|
| ဝန်ထမ်း | ၁၃၁ ဦး |
| | နောက်ဆက်တွဲ(၁၁) |

(ခ) နိုင်ငံခြားမှ လိုအပ်မည့် ကျွမ်းကျင်သူနှင့် အတတ်ပညာရှင်များ -

| **ကျွမ်းကျင်မှုအမျိုးအစား** | **ဦးရေ** | **ခန့်ထားမည့်အချိန်ကာလ** |
|---|---|---|

--------------------------------မရှိပါ----------------------------------------

၁၂။ စီးပွားရေးတွက်ခြေကိုက်မှု နှင့် စပ်လျဉ်းသော အချက်အလက်များ

| | ခန့်မှန်းခြေ (သန်းပေါင်း) | |
|---|---|---|
| | ကျပ်ငွေ | နိုင်ငံခြားငွေ |
| (က) နှစ်စဉ်ဝင်ငွေရရှိမှု (နောက်ဆက်တွဲ ၇) | - | - |
| (ခ) နှစ်စဉ်လုပ်ငန်းကုန်ကျစရိတ် (နောက်ဆက်တွဲ ၈) | - | - |
| (ဂ) နှစ်စဉ်အသားတင်အမြတ် (နောက်ဆက်တွဲ ၈) | - | - |
| (ဃ) နှစ်အလိုက်ရင်းနှီးမြှုပ်နှံမှု (ပထမနှစ်) ကျပ် | - | - |
| (င) အရင်းကျေကာလ (နောက်ဆက်တွဲ ၁၀) | (၅) နှစ်၊ (၇) လ IRR – 18 % | |
| (စ) အခြားအကျိုးအမြတ်များ | - အလုပ်အကိုင်ပိုမိုရရှိ၍ နည်းပညာသစ်များ ရရှိပြီး၊ နိုင်ငံတော်အတွက် ကုန်သွယ်လုပ်ငန်းခွန်၊ အမြတ်ခွန် နှင့် တစ်ဦးချင်း ဝင်ငွေခွန် များ ရရှိမည် ဖြစ်ပါသည်။ | |

(ဆ) အလုပ်အကိုင်သစ်များ ပေါ်ပေါက်လာမည့် အခြေအနေ - အလုပ်သမား ၁၃၁ ဦး အလုပ်အကိုင်ရရှိပါမည်။ နောက်ဆက်တွဲ (၁၁)

၁၃။ ဆောင်ရွက်ရန် အဆိုပြုချက်နှင့် စပ်လျဉ်းသည့် အထောက်အထားများ၊ အဆိုပြုတင်ပြသည့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းအတွက် အောက်ဖော်ပြပါ အထောက်အထားများကို ပူးတွဲတင်ပြအပ်ပါသည်။

(က) ပဋိညာဉ်စာချုပ်မူကြမ်း (လိုအပ်သည့်ကိစ္စတွင်)

(ခ) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေးဆိုင်ရာ အထောက်အထားများ၊

(ဂ) လက်ရှိဖွဲ့စည်းပြီး အဖွဲ့အစည်းဖြစ်ပါက သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း/ ဖွဲ့စည်းခြင်း၊ မရှိသေးပါက သင်းဖွဲ့မှတ်တမ်းမူကြမ်းနှင့် သင်းဖွဲ့စည်းမျဉ်းမူကြမ်း၊

(ဃ) လက်ရှိဖွဲ့စည်းပြီး အဖွဲ့အစည်းဖြစ်ပါက လက်ရှိအခြေအနေနှင့် ပြင်ဆင်ဖွဲ့စည်းမည့် အခြေအနေ အထောက်အထားများ။

လက်မှတ် ။ ...............................

အမည် ။ ဒေါ်သန္တာနေဝင်း

ရာထူး ။ မန်နေးဂျင်းဒါရိုက်တာ

ငပလီဘေးဗီလာ အန်ဒ် စပါး ကုမ္ပဏီလီမိတက်

(Ngapali Bay Villas & Spa Co Ltd)

နောက်ဆက်တွဲ ( ၁ )

# NGAPALI BAY VILLAS & SPA CO., LTD.

| စဉ် | အမည် | မှတ်ပုံတင်အမှတ် | ရာထူး | လိပ်စာ |
|---|---|---|---|---|
| ၁ | ဒေါ်သန္တာနေဝင်း | မြန်မာ ၁၂/ဗဟန(နိုင်) ဝ၈၄၄၄၈ | မန်နေဂျင်း ဒါရိုက်တာ | အမှတ်(၇)၊ကုက္ကိုင်းရိပ်သာလမ်း၊ ရွှေတောင်ကြား (၂) ရပ်ကွက်၊ ဗဟန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |
| ၂ | ဦးကျော်စိန် | မြန်မာ ၁၂/ဒဂန(နိုင်) ဝ၂၇၃၆၉ | ဒါရိုက်တာ | အမှတ်(၇)၊ကုက္ကိုင်းရိပ်သာလမ်း၊ ရွှေတောင်ကြား (၂) ရပ်ကွက်၊ ဗဟန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |

နောက်ဆက်တွဲ (၂-က)

**NGAPALI BAY VILLAS & SPA CO., LTD.**

ပြည်တွင်းမှ ဝယ်ယူမည့် ပစ္စည်းများ

| စဉ် | ပစ္စည်းအမျိုးအစား | ရေတွက်ပုံ | အရေအတွက် | ဈေးနှုန်း (ကျပ်) | တန်ဖိုး (ကျပ်) |
|---|---|---|---|---|---|
| | **11/0.4 kV Transformer and 400 V Distribution Line 450 Feet** | | | | |
| 1 | Concrete Pole (10)M | No | 4 | 150,000.00 | 600,000.00 |
| 2 | Galvanized U-Channel Iron (2" x 4" x 2" x 6'8"L) | No | 4 | 16,500.00 | 66,000.00 |
| 3 | Angle Iron for pole Bracing (2 1/2" x 2 1/2" x 2'10"L) | Pair | 10 | 5,600.00 | 56,000.00 |
| 4 | 11 KV Pin Insulator with spindle | No | 12 | 3,200.00 | 38,400.00 |
| 5 | 11 KV Disc Insulator with fitting | Set | 9 | 14,000.00 | 126,000.00 |
| 6 | ACSR 95 mm2 | Kg | 171 | 3,000.00 | 513,000.00 |
| 7 | Binding Wire (Aluminium No-10) | Kg | 5 | 6,000.00 | 30,000.00 |
| 8 | P.G Clamp (95)mm2 (A/LB-2) | No | 9 | 2,500.00 | 22,500.00 |
| 9 | Full Clamp for cross Arm of sigle suspension Pole (6"Æ) | No | 4 | 1,800.00 | 7,200.00 |
| 10 | Bracing Clamp 7"Æ for Single pole Brace | Pair | 10 | 2,200.00 | 22,000.00 |
| 11 | H.T Diron | No | 9 | 1,800.00 | 16,200.00 |
| 12 | 7" Æ Half Clamp for Double Arm Under Structure | Pair | 2 | 2,200.00 | 4,400.00 |
| 13 | Bolt & Nut with washer (5/8"Æ , 3/4"Æ) (Assorted size) | No | 18 | 600.00 | 10,800.00 |
| 14 | Concrete Footing for pole | No | 4 | 25,000.00 | 100,000.00 |
| 15 | Digging for Pole | No | 4 | 7,000.00 | 28,000.00 |
| 16 | Transportation Charges for Pole | No | 4 | 5,000.00 | 20,000.00 |
| 17 | Erecting Charges for pole | No | 4 | 15,000.00 | 60,000.00 |
| 18 | Transportation Charges for Materials | Mile | 0 | 150,000.00 | 12,000.00 |
| 19 | (a) U-Channel Iron for Cross Arm | No | 4 | 2,000.00 | 8,000.00 |
| 20 | (b) single pole Brace | Pair | 4 | 1,000.00 | 4,000.00 |
| 21 | Laying & straining Charges for conductor | R.ft | 3x450' | 100.00 | 135,000.00 |
| 22 | Fitting structure Charges (Arm, Barce & Insulator) for Single Suspension Pole | No. | 4 | 2,500.00 | 10,000.00 |
| 23 | for Single Suspension Pole | No | 4 | 2,500.00 | 10,000.00 |
| 24 | 11/0.4KV 315KVA Transformer | No | 1 | 9,000,000.00 | 9,000,000.00 |
| 25 | 10 Meter Concrete tubular pole | No | 2 | 110,000.00 | 220,000.00 |
| 26 | 2"x4"x2"10' Channel Iron | No | 7 | 25,000.00 | 175,000.00 |
| 27 | 2"x4"x2"6.5' Channel Iron | No | 2 | 16,250.00 | 32,500.00 |
| 28 | 2"x4"x2"x2' Channel Iron | No | 2 | 5,000.00 | 10,000.00 |
| 29 | 2"x 2" x3' Angle Iron | No | 4 | 3,000.00 | 12,000.00 |
| 30 | 11 kV Disc - Connecting Switch | Set | 1 | 450,000.00 | 450,000.00 |
| 31 | 11 kV Drop Out fuse (3 Nos= 1 Set) | Set | 1 | 115,500.00 | 115,500.00 |
| 32 | 11 kV Lightning arrestor (3 Nos = 1 Set) | Set | 1 | 97,650.00 | 97,650.00 |
| 33 | 11 kV Pin Insulator with Spindle | No | 6 | 3,200.00 | 19,200.00 |
| 34 | 11 kV Single tension Insulator Complete Set | Set | 3 | 14,000.00 | 42,000.00 |

လျှို့ဝှက်

မူလ

နောက်ဆက်တွဲ (၂-က)

**NGAPALI BAY VILLAS & SPA CO., LTD.**

ပြည်တွင်းမှ ဝယ်ယူမည့် ပစ္စည်းများ

| စဉ် | ပစ္စည်းအမျိုးအစား | ရေတွက်ပုံ | အရေအတွက် | ဈေးနှုန်း (ကျပ်) | တန်ဖိုး (ကျပ်) |
|---|---|---|---|---|---|
| 35 | 400 V Piller with Cu;bus - bar (3'Lx1.5'Wx 5' h) | No | 1 | 220,000.00 | 220,000.00 |
| 36 | 600 V,4 Core , 150 $mm^2$ Cu;PVC Cable | Meter | 7 | 110,000.00 | 770,000.00 |
| 37 | 600 V,4 Core , 120 $mm^2$ Cu;PVC Cable | Meter | 30 | 100,000.00 | 3,000,000.00 |
| 38 | 600 V, 3 Pole,400.A,No fuse breaker | No | 1 | 320,000.00 | 320,000.00 |
| 39 | 600 V, 3 Pole,200.A,No fuse breaker | No | 2 | 120,000.00 | 240,000.00 |
| 40 | Copper Earth rod 5/8"Ø 6.5'L | No | 6 | 7,500.00 | 45,000.00 |
| 41 | M.S Stay rod Complete Set | No | 2 | 8,500.00 | 17,000.00 |
| 42 | G.I Wire 7/10 for Stay | kg | 10 | 2,000.00 | 20,000.00 |
| 43 | 4" Straining Insulator | No | 2 | 600.00 | 1,200.00 |
| 44 | HDBC (4) for Connection & earthing | kg | 30 | 11,000.00 | 330,000.00 |
| 45 | Capacitor Bark (100 Kvar) | No | 1 | 2,900,000.00 | 2,900,000.00 |
| 46 | Full Clamp 7" Ø | No | 10 | 2,000.00 | 20,000.00 |
| 47 | Half Clamp 61/2" Ø | Pairs | 2 | 2,200.00 | 4,400.00 |
| 48 | 150 mm2 Cu; cable Lug | No | 8 | 4,100.00 | 32,800.00 |
| 49 | 120 mm2 Cu; cable Lug | No | 16 | 2,400.00 | 38,400.00 |
| 50 | 1"Ø 15' L PVC Pipe | No | 4 | 2,000.00 | 8,000.00 |
| 51 | H.T Tape | Roll | 1 | 2,500.00 | 2,500.00 |
| 52 | LT PVC Tape | Roll | 4 | 500.00 | 2,000.00 |
| 53 | Bi - metal Clamp | No | 3 | 500.00 | 1,500.00 |
| 54 | Bolts & Nuts (Assorted Size) with washer | Doz | 4 | 6,000.00 | 24,000.00 |
| 55 | 1" Øx 9" G.l pipe for Bushing | No | 2 | 600.00 | 1,200.00 |
| 56 | Concrete Footing for Pole | No | 2 | 25,000.00 | 50,000.00 |
| 57 | Concrete Footing for Stay | No | 2 | 25,000.00 | 50,000.00 |
| 58 | Digging for Pole y (2'Lx 2'W x 5' H) | No | 2 | 7,000.00 | 14,000.00 |
| 59 | Digging for Stay y (2'Lx 2'W x 5' H) | No | 2 | 7,000.00 | 14,000.00 |
| 60 | Digging for Earth | No | 4 | 25,000.00 | 100,000.00 |
| 61 | Erection of pole | No | 2 | 15,000.00 | 30,000.00 |
| 62 | Fabrication of channel iron | No | 9 | 1,000.00 | 9,000.00 |
| 63 | Fabrication of bracing | No | 4 | 1,000.00 | 4,000.00 |
| 64 | Fitting of cross arm & H- Pole member | No | 9 | 2,000.00 | 18,000.00 |
| 65 | Assembling of Dis - Connecting Switch | Set | 1 | 50,000.00 | 50,000.00 |
| 66 | Assenbling of Drop Out Fuse | Set | 1 | 50,000.00 | 50,000.00 |
| 67 | Assembling of Lightning Arrestor | Set | 1 | 50,000.00 | 50,000.00 |
| 68 | 400 V Distribution Piller Instrallation | No | 1 | 20,000.00 | 20,000.00 |
| 69 | 400 V Breaker Instrallation (1 Main -2 Feeder) | No | 3 | 50,000.00 | 150,000.00 |
| 70 | 400 V Cable Laying & termination | Meter | 37 | 2,000.00 | 74,000.00 |
| 71 | Earthing Instrallation (Neutral/Body/L.A) | Set | 1 | 200,000.00 | 200,000.00 |
| 72 | Stay Assembling | No | 2 | 5,000.00 | 10,000.00 |
| 73 | Trasporting Charges for Tr; | L.S | 1 | 80,000.00 | 80,000.00 |

